# မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
## အမှုတွဲမှတ်တမ်း

**ကုမ္ပဏီအမည်** - Thiwa Company Limited.

**လုပ်ငန်းအမည်** - ဆွန့်ပတ်အမှိုက်မှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | ရက်စွဲ | အကြောင်းအရာ | မှတ်ချက် |
|---|---|---|---|
| ၁။ | ၂၀.၁၂.၂၀၁၉ | အမှုတွဲလက်ခံရရှိခြင်း | |
| ၂။ | ၂၄.၁၂.၂၀၁၉ | သဘောတားမှတ်ချက်တောင်းခံခြင်း (မွန်ပြည်နယ်အစိုးရအဖွဲ့ချုပ်၊ လျှပ်စစ်၊ မြေစာရင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး၊ စက်မှုကြီးကြပ်ရေး) | |
| ၃။ | ၂-၁-၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (လျှပ်စစ်၊ မြေစာရင်း၊ စက်မှုကြီးကြပ်) | |
| ၄။ | ၁၀.၁.၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန) | |
| ၅။ | ၂၁.၁.၂၀၂၀ | သဘောတားမှတ်ချက်ပြန်ကြားခြင်း (မွန်ပြည်နယ်အစိုးရအဖွဲ့ချုပ်) | |
| ၆။ | ၁၃.၂.၂၀၂၀ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အမှုတွဲတင်ပြခြင်း | |
| ၇။ | ၃.၂.၂၀၂၀ | အစည်းအဝေးကျင်းပနိုင်ရန် ရက်သတ်မှတ်နိုင်ရေးအတွက် ဥက္ကဋ္ဌ အား တင်ပြခြင်း | |
| ၈။ | ၁၀.၂.၂၀၂၀ | အစည်းအဝေးဖိတ်ကြားခြင်း | |
| ၉။ | ၁၄.၂.၂၀၂၀ | အစည်းအဝေးကျင်းပခြင်း | |
| ၁၀။ | ၁၄.၂.၂၀၂၀ | Company မှ ရှင်းလင်းခြင်း | |
| ၁၁။ | ၂၀.၂.၂၀၂၀ | Endo နှင့် decision အပေါ်လက်မှတ်ထိုးရန် တင်ပြခြင်း | |
| ၁၂။ | ၂၀.၂.၂၀၂၀ | ဥက္ကဋ္ဌမှ Endo နှင့် decision ၌ လက်မှတ်ထိုးပေးခြင်း | |
| ၁၃။ | ၂၁.၂.၂၀၂၀ | Company သို့ Endorsement နှင့် decision အား ထုတ်ပေး | |
| ၁၄။ | ၂၁.၂.၂၀၂၀ | အဟောင်းမြို့နယ်နှင့် ဆုံးဖြတ်ချက်မိတ္တူ များ အား သက်ဆိုင်ရာ ဌာနကြီးများသို့ မိတ္တူပေးပို့ခြင်း | |

ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံတော်
ရင်းနှီးမြှုပ်နှံမှုနှင့်နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ငွေလက်ခံရန်အကြောင်းကြားစာ

အမှတ်စဉ်                                                    ရက်စွဲ၊ ၂၀၂၀ခုနှစ်၊ ဖေဖော်ဝါရီ  လ ၁၄ ရက်

အောက်ဖော်ပြပါ လျှောက်ထားသူထံမှ သက်ဆိုင်ရာလျှောက်ထားလွှာအတွက် ဖော်ပြပါ ဝန်ဆောင်ခအား လက်ခံပါရန်နှင့် ငွေရပြေစာမိတ္တူတစ်စောင်ကို ဌာနခွဲသို့ ပေးပို့ပေးပါရန် အကြောင်း ကြားအပ်ပါသည်-

၁။ လျှောက်ထားသူ၏ -
(က) အမည် ဦးနိုးသီဟ
(ခ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ် ၁၁/ကတန(နိုင်)၀၆၄၅၇၇
(ဂ) နေရပ်လိပ်စာ/ တယ်လီဖုန်း အမှတ် (၂၃)၊ နှင်းဆီလမ်း၊ ကံကော်ရပ်၊ ကျိုက်ထိုမြို့၊ မွန်ပြည်နယ်

၂။ ရင်းနှီးမြှုပ်နှံသူ၏ -
(က) အမည် ဦးနိုးသီဟ
(ခ) ကုမ္ပဏီအမည် Thiwa Co., Ltd.
(ဂ) လုပ်ငန်းအမျိုးအစား ရွှံ့မစ်အမျိုးကဲမှ မျှမ်းခံ ဒါဘ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း

၃။ ပေးသွင်းမည့်ဝန်ဆောင်ခနှင့်စပ်လျဉ်း၍-
(က) လျှောက်ထားလွှာ ပုံစံအမှတ် ၅ (၁)
(ခ) ဝန်ဆောင်ခနှုန်းထား(ဂဏန်းဖြင့်) ကျပ် ၅၀၀၀၀/-
(စာဖြင့်) ကျပ် ငါးသောင်း တိတိ
(ဂ) ငွေအမျိုးအစား
၁၀၀၀၀ x ၅    ၅၀၀၀၀/-

(မင်းသိန်းဦး)
ဆက်ဆောင်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
မြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်

၅၀၀၀၀/- ကျပ် (ငါးသောင်း ကျပ် တိတိ)ကို
လက်ခံရရှိပါသည်။

ငွေစာရင်းဌာနမှ
(မင်းသိန်းဦး)
ဆက်ဆောင်ညွှန်ကြားရေးမှူး
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ပြည်နယ်ဦးစီးမှူးရုံး၊ မွန်ပြည်နယ်



ပုံစံ (၅-ခ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**

**အတည်ပြုမိန့်**

အတည်ပြုမိန့်အမှတ် မပန- ၀၀၁/၂၀၂၀ ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ၂၀ ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၂၅ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးစိုးသိဟ

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၂၃)၊ နှင်းဆီလမ်း၊ ကံ့ကော်ရပ်၊ ကျိုက်ထိုမြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့်လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ (များ)** ကွင်းအမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ၊ ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်-၁၃၁၇/၁၅၀၁ + ၁၃၁၈/၁၅၀၂ ၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ရေးမြို့နယ်

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်း ယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ (ကျပ်)** ကျပ် ၅၈၀၀.၀၀၀ သန်း (အမေရိကန်ဒေါ်လာ ၃.၁၃၅ သန်း အပါအဝင် ကျပ်ငါးထောင်ရှစ်ရာသန်းတိတိ )

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၁ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** သီဝကုမ္ပဏီလီမိတက်

(ဒေါက်တာအေးဇံ)

ဥက္ကဋ္ဌ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီ**
မိုးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း - ၀၅၇-၂၀၂၃၃၉၅
ဖက်စ် - ၀၅၇-၂၀၂၃၃၈၅

စာအမှတ်၊ မရက/ ၄ / နငသ/ ၂၀၂၀ (၀၀၇)
ရက်စွဲ၊၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၀ ရက်

အကြောင်းအရာ။ **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက်) ၏ စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း အတည်ပြုလျှောက်ထားလွှာအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဆုံးဖြတ်ချက်**

ရည် ညွှန်း ချက်။ **Thiwa Co.,Ltd. (သီဝကုမ္ပဏီလီမိတက်)** ၏၂၀၁၉ ခုနှစ် ဒီဇင်ဘာလ ၁၉ ရက် နေ့စွဲပါတင်ပြစာ

၁။ **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၁၁၉၇/က၊ ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်-၁/၄၉၈+ ၄/၄၉၉၊ ကွင်းအမှတ်- ၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/၁၅၀၁+ ၁၃၁၈/ ၁၅၀၂ တွင် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်းနှင့်ပတ်သက်ပြီး ၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၄ ရက်နေ့တွင် ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁/၂၀၂၀) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ ခွင့်ပြုကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်)** အား စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် အတည်ပြု မိန့်အမှတ်၊ မပန- ၀၀၁/၂၀၂၀ ကို ထုတ်ပေးလိုက်သည်။

၂။ **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** အနေဖြင့် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါ အချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** အနေဖြင့် ဤအတည်ပြုမိန့်အရ စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်

နှင့်သက်သာခွင့် များကို ပြဋ္ဌာန်းထားသည့် အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထား နိုင်သည်။

(ခ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် ဤအတည်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် ထုတ်လုပ်မှုရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက်အကောင်အထည် ဖော်ရမည်။

(ဂ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၆၅ နှင့် နည်းဥပဒေ အခန်း (၂၀) တို့တွင် ပြဋ္ဌာန်းထားသည့် ရင်းနှီး မြှုပ်နှံသူ၏ တာဝန်ဝတ္တရားများနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

(ဃ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် လုပ်ငန်းဆောင်ရွက်ရာတွင် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဋ္ဌာန်း ထုတ်ပြန် ထားပြီးဖြစ်သည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်း ကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) **Thiwa Co.,Ltd. (သီဝကုမ္ပဏီလီမိတက်)** သည် လုပ်ငန်းဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်း ကာကွယ်ရေးစနစ်များကို ဝန်ခံကတိပြု ထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အမိန့်များကို တိကျစွာလိုက်နာ ဆောင်ရွက် ရမည်။

(စ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်း သက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်း တို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်း ဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(ဆ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုနည်း ဥပဒေ ၁၉၆ အရ နှစ်စဉ်ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလ အတွင်း သတ်မှတ်ချက်ပါအသေးစိတ်များပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံ

ဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ ဝက်ဆိုဒ် သို့ တင်ပြ ရမည်။

(ဈ) **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်းဆောင်ရွက်နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံ စာ ကို သုံးလလျှင်တစ်ကြိမ် ကော်မရှင်ကသတ်မှတ်တောင်းခံသည့်ပုံစံဖြင့် တင်ပြ ရမည်။

၃။ **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** အနေဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၆၅(ဃ) အရ သက်ဆိုင်သည့်ပြည်ထောင်စုဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်းများ မှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့်ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာ ဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ရမည်။

၄။ **Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )** သည် လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်း သဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ၊ သက်ဆိုင်သည့် ပြည်ထောင်စုဝန်ကြီးဌာန များ၊ အစိုးရဌာနနှင့်အဖွဲ့အစည်းများမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင် သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့်အညီ ဆောင်ရွက်ပြီးမိတ္တူ(၅)စုံစီအား ကော်မတီသို့ ပေးပို့ရမည်။

(ဒေါက်တာအေးစံ)
ဥက္ကဋ္ဌ

**Thiwa Co.,Ltd. ( သီဝကုမ္ပဏီလီမိတက် )**

**ဖြန့်ဝေခြင်း**
ပြည်ထောင်စုအစိုးရအဖွဲ့ရုံးဝန်ကြီးဌာန
ပြည်ထဲရေးဝန်ကြီးဌာန
စီမံကိန်း၊ ဘဏ္ဍာရေးနှင့် စက်မှုဝန်ကြီးဌာန
ရင်းနှီးမြှုပ်နှံမှုနှင့် နိုင်ငံခြားစီးပွားဆက်သွယ်ရေးဝန်ကြီးဌာန

သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
လျှပ်စစ်နှင့် စွမ်းအင်ဝန်ကြီးဌာန
အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန
စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
ဦးဆောင်ညွှန်ကြားရေးမှူး၊ လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန





၂၀၂၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁၄ ရက်(သောကြာနေ့) မွန်းလွဲ (၁၄:၀၀)နာရီအချိန် မွန်ပြည်နယ် အစိုးရအဖွဲ့ရုံး အစည်းအဝေးခန်း၌ ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ (၁/၂၀၂၀) အစည်းအဝေးမှတ်တမ်း

**အစည်းအဝေးတက်ရောက်ကြသူများ**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ အောက်ဖော်ပြပါ ပုဂ္ဂိုလ်များအစည်းအဝေး တက်ရောက်ကြပါသည်-

| | |
|---|---|
| (က) ဒေါက်တာအေးဇံ<br>မွန်ပြည်နယ်ဝန်ကြီးချုပ် | ဥက္ကဋ္ဌ<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ခ) ဦးဝဏ္ဏကျော်<br>ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဂ) ဦးတင်ညို<br>ပြည်နယ်ဦးစီးမှူး<br>စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေး<br>ဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (ဃ) ဦးအောင်အောင်လေး<br>ပြည်နယ်ဦးစီးမှူး<br>ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |
| (င) ဦးဝင်းဘို<br>ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာမှူး<br>လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း | အဖွဲ့ဝင်<br>မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ |

၂။ သီးခြားဖိတ်ကြားထားသည့် အောက်ပါပုဂ္ဂိုလ်များ အစည်းအဝေးတက်ရောက်ကြပါသည်-

| | |
|---|---|
| (က) ဦးစိုးသီဟ၊<br>အုပ်ချုပ်မှုဒါရိုက်တာ | Thiwa Co.,Ltd. |
| (ခ) ဒေါ်ရတနာလင်းအောင်၊<br>အုပ်ချုပ်မှုဒါရိုက်တာ | Myanmar Shing Shing Metal Co.,Ltd. |

**အစည်းအဝေးမတက်ရောက်နိုင်သူများ**

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအဖွဲ့ဝင်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ အတွင်းရေးမှူး ဦးလှဝင်းတင် သည် တာဝန်အရ အစည်းအဝေးတက်ရောက်နိုင်ခြင်း မရှိပါ။

၄။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအတွင်းရေးမှူး ဦးမြင့်လွင်သည် အငြိမ်းစားမယူမီ ကြိုတင်ပြင်ဆင်ခွင့်ခံစားနေသည့်အတွက် အစည်းအဝေးတက်ရောက်နိုင်ခြင်းမရှိပါ။

**ရည်ရွယ်ချက်**

၅။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃/၂၀၁၉) အစည်းအဝေးမှတ်တမ်းနှင့် အတည်ပြု မိန့်များ ထုတ်ပေးမှုအားမှတ်တမ်းတင်ရန်၊ အတည်ပြုလျှောက်ထားလွှာများတင်ပြလာသော Thiwa Co.,Ltd. ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာတွင် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓါတ်အားထုတ်လုပ် ဖြန့်ဖြူးခြင်းလုပ်ငန်းနှင့် Myanmar Shing Shing Metal Co.,Ltd. ၏ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဖြင့် မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်တွင် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းများအား အတည်ပြု မိန့် ထုတ်ပေးနိုင်ရေး ဆွေးနွေးဆုံးဖြတ်ရန်။

**ဆွေးနွေးချက်များ**

၆။ မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှု ဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူး ဦးစောလင်းအောင်က ယခင်မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီ အစည်းအဝေး (၃/၂၀၁၉)တွင် ဆွေးနွေးဆုံးဖြတ်ခဲ့သော အစည်းအဝေးမှတ်တမ်းနှင့် ယင်းအစည်း အဝေး ဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်နိုင်ရေး အတွက် ဆွေးနွေးတင်ပြပါသည်။

၇။ ယင်းနောက် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန် ကြားမှုဦးစီးဌာန ဒုတိယညွှန်ကြားရေးမှူးက မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ အတည်ပြု လျှောက်ထားလွှာတင်ပြလာသော Thiwa Co.,Ltd. ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ် အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့် Myanmar Shing Shing Metal Co.,Ltd.၏ ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်းတို့အား အတည်ပြုမိန့်ထုတ်ပေးနိုင် ရေး ဆွေးနွေးဆုံးဖြတ်ပေးရန် တင်ပြပါသည်။

၈။ Thiwa Co.,Ltd. မှ အုပ်ချုပ်မှုဒါရိုက်တာဦးစိုးသီဟက မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ဓမင်းဆိပ်ကွင်း မြေကွက်အမှတ်-၁/၄၉၈ + ၄/၄၉၉ ရှိ ဧရိယာ (၁၀.၅၈) ကေနှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်-၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ကေ စုစုပေါင်းမြေဧရိယာ (၁၅.၇၅) ကေတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်မည့်အခြေအနေများ၊ လုပ်ငန်းတည်ဆောက်ပြီးစီးမှုအခြေအနေများ၊ ဓါတ်အား ဖြန့်ဖြူးနိုင်မည့် အခြေအနေ၊ ဒေသခံဝန်ထမ်း (၅၅) ဦး အလုပ်ခန့်ထားနိုင်မည့်အခြေအနေနှင့် ကုမ္ပဏီ၏ CSR ဆောင်ရွက် မည့် အစီအစဉ်များကို ရှင်းလင်းတင်ပြ ပါသည်။

၉။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က Thiwa Co.,Ltd ၏ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး စွန့်ပစ်အမှိုက်နှင့်ပတ်သက်သည့် အစီအမံများ၊ နည်းပညာရရှိမှုအခြေအနေ၊ လမ်းဖောက်လုပ်ပြီးစီးမှုအခြေအနေ၊ EMP, IEE ရေးဆွဲမည့်အခြေအနေများအား မေးမြန်းဆွေးနွေးပါသည်။

၁၀။ Thiwa Co.,Ltd. ၏ အုပ်ချုပ်မှုဒါရိုက်တာက EMP ရေးဆွဲမှုကို ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ ရေးဆွဲနေပြီဖြစ်ကြောင်း၊ စွန့်ပစ်အမှိုက်မှ ဓါတ်အားထုတ်လုပ်ခြင်း ဖြစ်သည့်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းမှုကို အားပေးခြင်း ဖြစ်ပါကြောင်း၊ နည်းပညာမှာ အမေရိကန်နည်းပညာဖြစ်ကြောင်း ပြန်လည်ရှင်းလင်း ဆွေးနွေး တင်ပြပါသည်။

၁၁။ ယင်းနောက် Myanmar Shing Shing Metal Co.,Ltd.မှ အုပ်ချုပ်မှုဒါရိုက်တာ ဒေါ်ရတနာလင်းအောင်က မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈) ကေ နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ် (၃၈၆) ခရုံကရုတ်ကွင်းရှိမြေ (၂.၃၀) ကေ၊ စုစုပေါင်း (၃.၆၈)ကေတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်နေမှုအခြေအနေများကို ရှင်းလင်းတင်ပြပါသည်။

၁၂။ ဆက်လက်ပြီး အုပ်ချုပ်မှုဒါရိုက်တာက လုပ်ငန်းမှာလည်းပတ်ဆောင်ရွက်နေသောလုပ်ငန်း ဖြစ်သော်လည်း လုပ်ငန်းတိုးချဲ့သည့်အခါ လိုအပ်သည့်စက်ပစ္စည်းများအား အခွန်ကင်းလွတ်ခွင့်ရရှိနိုင်ရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ၏ အကာအကွယ်၊ အထောက်အပံ့ခံယူလိုသည့် အတွက်ကြောင့်လည်းကောင်း အတည်ပြုလျှောက်ထားလွှာ တင်ပြရခြင်း ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (ရုံးချုပ်) သို့ EIA report ရေးဆွဲတင်ပြခဲ့ရာ

ထုတ်လုပ်မှုပမာဏအရ EIA ရေးဆွဲရန်မလိုအပ်ဘဲ IEE သာ ရေးဆွဲရန်လိုအပ်ကြောင်း ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန (ရုံးချုပ်)မှ ညွှန်ကြားခဲ့သဖြင့် IEE ရေးဆွဲဆောင်ရွက်နေပြီ ဖြစ်ပါကြောင်း ရှင်းလင်းတင်ပြပါသည်။

၁၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က IEE ကို အမြန်ဆုံး ရေးဆွဲစေလိုကြောင်း၊ သက်ဆိုင်ရာလွှတ်တော်ကိုယ်စားလှယ်များကလည်း EIA , IEE ရှိ/မရှိ မေးမြန်းကြမည်ဖြစ်ကြောင်း၊ ထို့ကြောင့် IEE ကို စနစ်တကျ မြန်မြန်ဆန်ဆန်ရေးဆွဲစေလိုကြောင်း ပြောကြားပြီး၊ IEE ရေးဆွဲပြီးစီးနိုင်မည့်ရက်၊ ဓါတုပစ္စည်းအသုံးပြုမှုအခြေအနေ၊ မီးခိုးခေါင်းတိုင် အရွယ်အစားနှင့် လေထုထဲသို့ အခိုးအငွေ့ထုတ်လွှတ်မှု အခြေအနေ၊ CSR ဆောင်ရွက်မှု အခြေအနေ များကို မေးမြန်းဆွေးနွေးပါသည်။

၁၄။ ကုမ္ပဏီအုပ်ချုပ်မှုဒါရိုက်တာက မီးခိုးခေါင်းတိုင်ကို ယခင်ပေ ၈၀ ရှိရာမှ ယခုပေ ၁၁၀ သို့ မြှင့်တင်ထားကြောင်း၊ အခိုးအငွေ့သန့်စင်ထိန်းချုပ်ကိရိယာ Wet Scrubbers တပ်ဆင်ထားကြောင်း၊ သို့ဖြစ်ရာ လေထုထဲသို့ သန့်စင်ပြီးသော Flue Gases များသာ ထုတ်လွှတ်ကြောင်း၊ ယင်းအတွက် ဓါတ်ကူပစ္စည်းဖြစ်သော ထုံး၊ ကော့စတစ်ဆိုဒါများ ထည့်သွင်းအသုံးပြုပါကြောင်း ရှင်းလင်းပြော ကြားပြီး CSR ဆောင်ရွက်ခဲ့မှုများအပေါ် ရှင်းလင်းတင်ပြပါသည်။

၁၅။ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ဦးအောင်အောင်လေးက အဆိုပါ လုပ်ငန်းနှင့်ပတ်သက်၍ လေထုသန့်စင်မှုအခြေအနေ တိုင်းတာမှုအားနှစ်ပတ်တစ်ခါ ဆောင်ရွက် ကြောင်း၊ ကုမ္ပဏီအနေဖြင့် wet scrubber အတွက်ပုံမှန်ထည့်ရမည့်ပစ္စည်းများပုံမှန်ထည့်သွင်းရန်၊ ပုံမှန်သန့်ရှင်းရေးဆောင်ရွက်ရန်၊ maintenance လုပ်ရန်ညွှန်ကြားထားကြောင်း၊ ပုံမှန်သန့်ရှင်းရေး မလုပ်ပါက Function ကျသွားမည်ဖြစ်ပါကြောင်း အခိုးအငွေ့ထုတ်လွှတ်နေမှုအားပုံမှန်တိုင်းတာရန်၊ မှတ်တမ်းထားရှိရန်၊ တိုင်းတာမှုရလဒ်များအား ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန သို့ အပတ်စဉ် တင်ပြရန် ညွှန်ကြားထားကြောင်း ရှင်းလင်းဆွေးနွေးပါသည်။

၁၆။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌ၊ မွန်ပြည်နယ်ဝန်ကြီးချုပ်က CSR ဆောင်ရွက်မှု နှင့်ပတ်သက်ပြီး မဆောင်ရွက်မီ မွန်ပြည်နယ်အစိုးရအဖွဲ့သို့ ကြိုတင်တင်ပြရန်ဖြစ်ကြောင်း၊ သို့မှသာ CSR စာရင်းဝင်မည်ဖြစ်ကြောင်း ဆွေးနွေးမှာကြားပါသည်။

**ဆုံးဖြတ်ချက်**

၁၇။ အောက်ပါအတိုင်း ဆောင်ရွက်ရန် ဆုံးဖြတ်ကြပါသည်-

| စဉ် | အကြောင်းအရာ | ဆောင်ရွက်ရန် |
|---|---|---|
| (က) | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၃/၂၀၁၉) တွင်ဆွေးနွေးဆုံးဖြတ်ခဲ့သောအစည်းအဝေး မှတ်တမ်းနှင့်ယင်းအစည်းအဝေး ဆုံးဖြတ်ချက်များ အရ အတည်ပြုမိန့်များထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီဝင်များ၊ |
| (ခ) | Thiwa Co.,Ltd. ၏ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်- ၁၁၉၇/က၊ ခမင်းဆိပ်ကွင်း မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိ ဧရိယာ (၁၀.၅၈) ဧကနှင့် ကွင်းအမှတ်- ၁၁၉၅၊ ဘဲအဖွဲ့အနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက စုစုပေါင်းမြေဧရိယာ (၁၅.၇၅) တွင် မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အား ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |
| (ဂ) | Myanmar Shing Shing Metal Co.,Ltd.၏ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရပ်ကွက်၊ ဦးပိုင်အမှတ် (၃၂၅+၃၂၆+ ၃၂၇+၃၂၈+၃၂၉+၃၃၀) ရှိ မြေဧရိယာ (၁.၃၈) ဧက နှင့် ဦးပိုင်အမှတ် (၉၂-က/၂)၊ အကွက်အမှတ် (၃၈၆) ခရုံကရတ်ကွင်းရှိမြေ (၂.၃၀) ဧက၊ စုစုပေါင်း (၃.၆၈) ဧကတွင် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း အား ခွင့်ပြုရန်နှင့် အတည်ပြုမိန့်ထုတ်ပေးရန်။ | မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီရုံး |

**အစည်းအဝေးပြီးဆုံးခြင်း**

၁၈။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီအစည်းအဝေး (၁/၂၀၂၀)အား (၁၄:၄၀)နာရီတွင် ပြီးဆုံးပါသည်။

မှတ်တမ်းတင်သူ

စောလင်းအောင်
ဒုတိယညွှန်ကြားရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး

စာအမှတ်၊ မရက/၆/ အစည်းအဝေး/ ၂၀၂၀ ( ၀၀၅ )
ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၁၈ ရက်

**ဖြန့်ဝေခြင်း**

ကော်မတီဝင်များအားလုံး

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့
မျှောစာတွဲ/ ရုံးလက်ခံ

(၁၄-၂-၂၀၂၀) ရက်နေ့(သောကြာနေ့)၊ မွန်းလွဲ (၁၄:၀၀)နာရီအချိန်၊ မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်းမ၌
ကျင်းပပြုလုပ်သော မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၁/၂၀၂၀) ကြိမ်မြောက် အစည်းအဝေးသို့
တက်ရောက်သူများ လက်မှတ်ရေးထိုးခြင်းမှတ်တမ်း

| စဉ် | အမည် | ရာထူး | ဌာန | လက်မှတ် |
|---|---|---|---|---|
| ၁ | ဒေါက်တာအေးဇံ | ဝန်ကြီးချုပ် | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၂ | ဦးဝဏ္ဏကျော် | ပြည်နယ်ဝန်ကြီး | ပြည်နယ်စီမံ/ဘဏ္ဍာဝန်ကြီး | |
| ၃ | ဦးလှဝင်းတင် | အတွင်းရေးမှူး | မွန်ပြည်နယ်အစိုးရအဖွဲ့ | |
| ၄ | ဦးတင်ညို | ညွှန်ကြားရေးမှူး | ပြည်နယ်စက်မှုကြီးကြပ် | 14/2/2020 |
| ၅ | ဦးအောင်အောင်လေး | ညွှန်ကြားရေးမှူး | ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေး | |
| ၆ | ဦးဝင်းဘို | ပြည်နယ်လျှပ်စစ် အင်ဂျင်နီယာ | ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေး | |
| ၇ | ဦးဇော်မင်းကျော် ဦး သူဌေးနိုင်မျိုး | ပြည်နယ်ဦးစီးမှူး (ကဝ) | ရင်းနှီး/ကုမ္ပဏီဦးစီးဌာန | |
| ၈ | | | | |
| ၉ | | | | |




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅ | စာအမှတ်၊မရက/၆/အစည်းအဝေး/၂၀၂၀ ( ၀၀၄ )

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅ | ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ် ၊ ဖေဖော်ဝါရီ လ ၁၀ ရက်

အကြောင်းအရာ။ **အစည်းအဝေးဖိတ်ကြားခြင်း**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏( ၁ /၂၀၂၀) ကြိမ်မြောက်အစည်းအဝေးကို အောက်ပါ အစီအစဉ်အတိုင်းကျင်းပပြုလုပ်မည်ဖြစ်ပါ၍ ကြွရောက်ပါရန် ဖိတ်ကြားအပ်ပါသည် -

(က) ကျင်းပမည့် နေ့ရက် - ၁၄ - ၂ -၂၀၂၀ (သောကြာနေ့)

(ခ) ကျင်းပမည့် အချိန် - ၁၃:၀၀ နာရီ

(ဂ) ကျင်းပမည့် နေရာ - မွန်ပြည်နယ်အစိုးရအဖွဲ့ရုံးအစည်းအဝေးခန်း

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဝင်များအားလုံး **မပျက်မကွက်** တက်ရောက်ပေးပါရန် မေတ္တာရပ်ခံလျက် အစည်းအဝေးအစီအစဉ်နှင့်အမှာစာများအား ပူးတွဲပေးပို့အပ်ပါသည်။

ဥက္ကဋ္ဌ (ကိုယ်စား)

(စောလင်းအောင်၊ ဒုတိယညွှန်ကြားရေးမှူး)

**ဖြန့်ဝေခြင်း**

ဒေါက်တာအေးဇံ (မွန်ပြည်နယ်ဝန်ကြီးချုပ်)

ဥက္ကဋ္ဌ
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝဏ္ဏကျော် (မွန်ပြည်နယ်စီမံကိန်းနှင့် ဘဏ္ဍာရေးဝန်ကြီး)

အဖွဲ့ဝင်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

Committee invitation

ဦးလှဝင်းတင် (အတွင်းရေးမှူး၊ မွန်ပြည်နယ်အစိုးရအဖွဲ့)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးတင်ညို (ညွှန်ကြားရေးမှူး၊ မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးအောင်အောင်လေး (ညွှန်ကြားရေးမှူး၊ မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးဝင်းဘို (ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ၊ မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း)
အဖွဲ့ဝင်
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

ဦးမြင့်လွင် (ပြည်နယ်ဦးစီးဌာနမှူး၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန)
အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

မိတ္တူကို

မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး၊ မော်လမြိုင်မြို့

Thiwa Co.,Ltd.

Myanmar Shing Shing Metal Co.,Ltd.

ရုံးလက်ခံ

မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ

အစည်းအဝေးအမှတ်စဉ် ( ၁/၂၀၂၀ )

**အစည်းအဝေးအစီအစဉ်**

၁။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီဥက္ကဋ္ဌမှ အမှာစကားပြောကြားခြင်း၊

၂။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃ /၂၀၁၉)ကြိမ်မြောက်အစည်းအဝေးမှတ်တမ်းအား အတည်ပြုမှတ်တမ်းတင်ခြင်း၊

၃။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၃ /၂၀၁၉) ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်များအရ အတည်ပြုမိန့်များ ထုတ်ပေးခဲ့ခြင်းအပေါ် မှတ်တမ်းတင်ခြင်း၊

**၄။ အတည်ပြုလျှောက်ထားလွှာတင်ပြလာမှုများအား အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် ဆွေးနွေးဆုံးဖြတ်ခြင်း-**

(က) Tiwa Company Limited ၏ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ခ) Myanmar Shing Shing Metal Company Limited ၏ မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် ခနောက်စိမ်းသတ္တုသန့်စင်ထုတ်လုပ်ခြင်းလုပ်ငန်း ( လုပ်ငန်းဟောင်း )

၅။ ဥက္ကဋ္ဌမှ နိဂုံးချုပ်ပြောကြားခြင်း၊

၆။ အစည်းအဝေး ပြီးဆုံးခြင်း ။

အကြောင်းအရာ။ **THIWA Company Limited မှ ရာနူန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Thiwa Co.,Ltd.<br>ဦးစိုးသီဟ ၊ ဒါရိုက်တာ<br>- ရာခိုင်နူန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လှိုင် ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိဧရိယာ (၁၀.၅၈) ဧက နှင့် ကွင်းအမှတ်- ၁၁၉၅၊ ဘဲအဖွဲ့အနောက်ကွင်း၊ မြေကွက် အမှတ်-၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက စုစုပေါင်းမြေဧရိယာ ( ၁၅.၇၅ ) ဧက |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦ အရေအတွက်<br><br><br><br><br><br>နှစ်စဉ်မြေငှားရမ်းခ<br>မြေ/ အဆောက်အဦ ငှားရမ်း / အသုံးပြုခွင့်သက်တမ်း | - ဦးစိုးသီဟ ၊ ဒါရိုက်တာ<br>- ၁၅.၇၅ ဧက<br>Factory 100'x150'x30 ၁ လုံး<br>office 60'x30'x11' ၁ လုံး<br>Staff Housing 100'x40'x11' ၁ လုံး<br>Gust House 90'x30'x12' ၁ လုံး<br>Store 100'x30'x12' ၁ လုံး<br>**စုစုပေါင်း ၅ လုံး**<br>ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။<br>ကုမ္ပဏီပိုင်မြေတွင် ဆောင်ရွက်သည်။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ<br>**ထည့်ဝင်သည့်အမျိုးအစား**<br>(က) ငွေသား<br>(ခ) စက်ပစ္စည်းကိရိယာ<br>(ဂ) ရုံးသုံးပစ္စည်းများ<br>(ဃ) အဆောက်အဦ တန်ဖိုး<br>**စုစုပေါင်း** | - ကျပ် ၅၈၀၀.၀၀၀ သန်း<br><br>- ကျပ်သန်း ၁၅၀.၀၀၀<br>- ကျပ်သန်း ၄၂၃၂.၃၅၀ ( USD 3135072 အပါအဝင်)<br>- ကျပ်သန်း ၆၇.၆၅၀<br>- ကျပ်သန်း ၁၃၅၀.၀၀၀<br>**- ကျပ်သန်း ၅၈၀၀.၀၀၀ ( USD 3135072 အပါအဝင်)** |

| | | |
|---|---|---|
| ၇။ | ရောင်းချမှုနည်းစနစ် | ပြည်တွင်း ( 100%) |
| ၈။ | ရောင်းချမှုနှင့် ဈေးနှုန်း | **တစ်နှစ်ထုတ်လုပ်မှုအရေအတွက် (Unit)** 2592000 — **ဈေးနှုန်း ( ကျပ် / Unit )** 250 |
| ၉။ | ဝန်ထမ်းခန့်ထားမှု | **ပြည်တွင်း / ပြည်ပ**<br>ဦးရေ ၅၅ ဦး / -<br>အမြင့်ဆုံးလစာ ကျပ် ၁၀၀၀၀၀၀ / -<br>အနိမ့်ဆုံးလစာ ကျပ် ၂၀၀၀၀၀ / - |
| ၁၀။ | အခြားတင်ပြချက် | - မီးဘေးကာကွယ်မှုအစီအမံများ၊လုပ်ငန်းခွင်သာယာရေး ဝန်ထမ်းသက်သာချောင်ချိရေးအတွက်ဆောင်ရွက်ထားရှိမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့်သက်ဆိုင်ရာဌာနများ၏လမ်းညွှန်ချက်များ၊တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းကတိဝန်ခံမှုပြုထားပါသည်။<br>- ပြည်တွင်းဝန်ထမ်းများ အတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျခံပေးမည် ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။<br>- THIWA Co.,Ltd.သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်-108606746 ဖြင့် ၂၀ .၁၀ .၂၀၁၅ ရက်နေ့တွင် မှတ်ပုံတင်ထားပြီး ဒါရိုက်တာအစုရှင်(၂)ဦးဖြင့်ဖွဲ့စည်း မှတ်ပုံတင်ထားသော ကုမ္ပဏီဖြစ်ပါသည်။<br>- ငွေကြေးပိုင်ဆိုင်မှု အထောက်အထားအဖြစ် (၁၇.၁၂.၂၀၁၉) ရက်နေ့ထိကျပ် ၁၀၀.၂၆၂ သန်း ရှိကြောင်း Global Treasure Bank Limited ( Kyaikhto Branch) ၏ Bank Statement ဖော်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ကော့လှိုင်ကျေးရွာအုပ်စု၊ကွင်းအမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိဧရိယာ (၁၀.၅၈)ဧကနှင့်ကွင်းအမှတ်- ၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်-၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက စုစုပေါင်းမြေဧရိယာ ( ၁၅.၇၅ ) ဧကအား သီဝကုမ္ပဏီလီမိတက်မှလျှပ်စစ်ဓါတ်အားစက်ရုံတည်ဆောက်ရန်အတွက် မြေလွတ်၊ မြေရိုင်းနှင့် မြေလပ် လုပ်ပိုင်ခွင့် လျှောက်ထားဆဲ ဖြစ်ကြောင်း တွေ့ရှိရပါသည်။<br>- လုပ်ငန်းအမျိုးအစားသည် ISIC 351 ဖြစ်ပြီး MIC အမိန့်ကြော်ငြာစာအမှတ်၊ ၁၃/၂၀၁၇ အပိုဒ်(၁) (၃) အရ ဦးစားပေးမြှင့်တင်မည့်ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။<br>- လုပ်ငန်းတည်နေရာဖြစ်သော မွန်ပြည်နယ်၊ ရေးမြို့နယ်သည် MICအမိန့်ကြော်ငြာစာအမှတ်၊ ၁၀/၂၀၁၇အရ ဇုန်(၂) တွင် ပါဝင်သည့်အတွက် ဥပဒေပုဒ်မ ၇၅(က)(ဂ)အရ ဝင်ငွေခွန် ကင်းလွတ်သက်သာခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။<br>- မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၇၇(က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်း လုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့်လုပ်ငန်းသုံးပစ္စည်းများအတွက်အကောက်ခွန် ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့်လုပ်ငန်း ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |




**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ**

မီးလောင်ပြင်လမ်း၊ မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

တယ်လီဖုန်း- ၀၅၇-၂၀၂၃၃၉၅ | စာအမှတ်၊ မရက / ၂ / နငသ / ၂၀၂၀ ( ၈၀၂ )

ဖက်(စ်) - ၀၅၇-၂၀၂၃၃၈၅ | ရက်စွဲ၊ ၂၀၂၀ ပြည့်နှစ်၊ ဖေဖော်ဝါရီ လ ၁၁ ရက်

**မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်) ၏ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်း ကိစ္စ**

၁။ **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်)** မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်း အမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိ ဧရိယာ(၁၀.၅၈)ဧက နှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖုဲအနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက၊ စုစုပေါင်းမြေဧရိယာ (၁၅.၇၅)ဧကတွင် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ သို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်)** သည် ကုမ္ပဏီမှတ်ပုံတင်အမှတ်- 108606746 ဖြင့် ၂၀-၁၀-၂၀၁၅ရက်နေ့တွင်မှတ်ပုံတင်ထားသော မြန်မာနိုင်ငံသားကုမ္ပဏီ ဖြစ်ကြောင်း တွေ့ရှိရပါသည်။ ကုမ္ပဏီတွင်ဒါရိုက်တာအစုရှင်(၂)ဦးပါဝင်ပြီး ကုမ္ပဏီ၏အစုရှယ်ယာ ၅၀% ကို အတည်ပြုလျှောက်လွှာတင်ပြသူ ဒါရိုက်တာဦးစိုးသီဟက ပိုင်ဆိုင်ကြောင်း တွေ့ရှိရပါသည်။

၃။ **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်)** ၏ ငွေကြေးပိုင်ဆိုင်မှုအထောက်အထားအဖြစ် ၁၇-၁၂-၂၀၁၉ ရက်နေ့အထိ ကျပ်သန်း ၁၀၀.၂၆၂ ရှိကြောင်း Global Treasure Bank Limited (Kyaikhto Branch) ၏ Bank Statement တင်ပြထားပါသည်။



**ကန့်သတ်**

၄။ လုပ်ငန်းဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိ ဧရိယာ(၁၀.၅၈)ဧက နှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက၊ စုစုပေါင်း မြေဧရိယာ (၁၅.၇၅)ဧက အား **Thiwa Company Limited (သီဝ ကုမ္ပဏီ လီမိတက်)**မှ လျှပ်စစ်ဓါတ်အားစက်ရုံတည်ဆောက်ရန်အတွက် မြေလွတ်၊ မြေရိုင်းနှင့် မြေလပ် လုပ်ပိုင်ခွင့် လျှောက်ထားဆဲဖြစ်ကြောင်း တွေ့ရှိရပါသည်။

၅။ လုပ်ငန်းသည် 5 MW ဓါတ်အားပေးစက်ရုံတည်ဆောက်၍ စွန့်ပစ်သစ်ခေါက်များ၊ သစ်ပါးလွှာ၊ သစ်တိုသစ်စများကို အသုံးပြုကာ ဓါတ်ငွေ့မှတစ်ဆင့် လျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချမည့် လုပ်ငန်းဖြစ်ပါသည်။

၆။ ရင်းနှီးမြှုပ်နှံမှုပမာဏမှာ **ကျပ်သန်း ၅၈၀၀.၀၀၀** ဖြစ်ပြီး အောက်ပါအတိုင်းဖော်ပြထားပါသည် -

| | | | | |
|---|---|---|---|---|
| (က) | ငွေသား | - | ကျပ်သန်း | ၁၅၀.၀၀၀ |
| (ခ) | စက်ပစ္စည်းများ | - | ကျပ်သန်း | ၄၂၃၂.၃၅၀ |
| (ဂ) | Transformer | - | ကျပ်သန်း | ၆၇.၆၅၀ |
| (ဃ) | အဆောက်အဦကုန်ကျစရိတ် | - | ကျပ်သန်း | ၁၃၅၀.၀၀၀ |
| | **စုစုပေါင်း** | - | ကျပ်သန်း | **၅၈၀၀.၀၀၀** |

၇။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသက်တမ်းမှာ (၃၀)နှစ်ဖြစ်ပြီး တည်ဆောက်ရေးကာလ မှာ (၁ )နှစ် ဖြစ်ပါသည်။

၈။ လျှောက်ထားလွှာအရ အောက်ပါအဆောက်အဦများပါရှိကြောင်း ဖော်ပြထားပါသည်-

| | | |
|---|---|---|
| (က) Factory | 100'x150'x30' | ၁ လုံး |
| (ခ) Office | 60'x30'x11' | ၁ လုံး |
| (ဂ) Staff Housing | 100'x40'x11' | ၁ လုံး |
| (ဃ) Gust House | 90'x30'x12' | ၁ လုံး |
| (င) Store | 100'x30'x12' | ၁ လုံး |
| | **စုစုပေါင်း** | **၅ လုံး** |

၉။ လုပ်ငန်းကြောင့် ဒေသခံ ပြည်တွင်းဝန်ထမ်း (၅၅) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းများ၏ အမြင့်ဆုံးလစာသတ်မှတ်ချက် (၁၀၀၀၀၀၀ိ/-) ဖြစ်ပြီး အနိမ့်ဆုံးလစာ

သတ်မှတ်ချက် (၂၀၀၀၀၀/- )ဖြစ်ပါသည်။ အခွန်ဥပဒေနှင့်အညီ ပြည်တွင်း/ပြည်ပဝန်ထမ်းများ ၏ လစာမှ ဝင်ငွေခွန်ကို ကုမ္ပဏီမှ တာဝန်ယူ ကောက်ခံ ပေးသွင်းသွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်နှင့် ပြည်တွင်းဝန်ထမ်းများအတွက် အနိမ့်ဆုံးလုပ်ခလစာဥပဒေ သတ်မှတ်ချက်နှင့်အညီ သတ်မှတ်ကျ ခံပေးမည်ဖြစ်ကြောင်း ကတိဝန်ခံချက် ဖော်ပြပါရှိပါသည်။

၁၀။ လုပ်ငန်းအတွက် လိုအပ်သောအဆောက်အဦများဆောက်လုပ်ခြင်း၊ လမ်းများဖောက်ခြင်း၊ တံတားဆောက်လုပ်ခြင်း၊ ဓါတ်အားလိုင်းသွယ်တန်းခြင်း၊ ရေသန့်ရရှိရေးအတွက်ရေပိုက်များ သွယ်တန်းခြင်း၊ လျှပ်စစ်ဓါတ်အားပေးစက်ရုံသို့ဓါတ်ငွေ့ပိုက်လိုင်းသွယ်တန်းခြင်းနှင့် မီးဘေးကာကွယ်ရေးအတွက် မီးသတ်ရေကန်များတည်ဆောက်ခြင်း၊ အဝီစိတွင်းတူးဖော်ခြင်းများ ဆောင်ရွက်မည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ စက်ရုံ အဆောက်အဦပုံစံ၊ ထုတ်လုပ်မည့်နည်းစနစ်၊ မီးဘေးစီမံချက်နှင့် ဝန်ထမ်း သက်သာချောင်ချိရေး အစီအစဉ်များ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရန် အတည်ပြုမိန့်ရရှိပါက သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံချက်ဖော်ပြပါရှိပါသည်။

၁၂။ လုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားပြန်ကြားထားပါသည် -

(က) **မွန်ပြည်နယ်လျှပ်စစ်ဓါတ်အားဖြန့်ဖြူးရေးလုပ်ငန်း**က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး ကန့်ကွက်ရန်မရှိကြောင်းနှင့် မီးသုံးစွဲသူများဓါတ်အားပြည့်ဝစွာရရှိပြီး၊ ဓါတ်အားခ သက်သာမည်ဆိုပါက ကူညီဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်းပြန် ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **မွန်ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန**က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး လုပ်ငန်းဆောင်ရွက်မည့်မြေအား ၂၀၁၂ခုနှစ်/ ၂၀၁၈ခုနှစ်၊ မြေလွတ် မြေလပ်နှင့် မြေရိုင်းများစီမံခန့်ခွဲရေးဥပဒေ၊ နည်းဥပဒေများနှင့်အညီ လျှောက်ထားဆောင်ရွက်ဆဲဖြစ်ပြီး မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်မှုရှိပါက ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြထားပါသည်။ **(နောက်ဆက်တွဲ-ခ)**

(ဂ) **မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** က အောက်ပါအချက် များအား လိုက်နာဆောင်ရွက်ရန် သဘောထားပြန်ကြားထားပါသည်- **(နောက်ဆက်တွဲ-ဂ)**

(၁) ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်(Environmental Management Plan-EMP) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းအပိုဒ် ၆၃ (ဈ)ပါ အချက်များနှင့်အညီရေးဆွဲဆောင်ရွက်ရန်နှင့် မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်း သိမ်းရေးဦးစီးဌာနသို့ Hard Copy၊ Solf Copy တို့ဖြင့် (၉-၇-၂၀၂၀) ရက်နေ့ နောက်ဆုံးထား၍ တင်ပြဆောင်ရွက်သွားရန်၊

(၂) လုပ်ငန်းဆောင်ရွက်မည့်ကုန်ကြမ်းများအား သေချာစွာသိုလှောင်ထားရန်နှင့် ဘေးပတ်ဝန်းကျင်သို့ပျံ့လွင့်မှုမရှိစေရန် စီမံဆောင်ရွက်ရန်၊

(၃) Gas Monitoring Stations များတပ်ဆင်ထားရန်နှင့် ဓါတ်ငွေ့ယိုစိမ့်မှုမရှိစေ ရန် အချိန်နှင့်တစ်ပြေးညီ အမြဲစောင့်ကြပ်စစ်ဆေးရန်၊

(၄) လေထုသန့်စင်စနစ်ထားရှိရန်၊ Exhaust Fan များ တပ်ဆင်ရန်၊ အခိုးအငွေ့ များအား ပတ်ဝန်းကျင်ထိခိုက်မှုမရှိသည့် အဆင့်သို့ ရောက်မှသာ ထုတ်လွှတ် သွားရန်၊

(၅) စွန့်ပစ်ပစ္စည်းများအား ပတ်ဝန်းကျင်ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရေး ပတ်ဝန်းကျင် အရည်အသွေးစံချိန်စံညွှန်းများနှင့်အညီ သန့်စင်ထုတ်လွှတ် စွန့်ပစ်ခြင်းများဆောင်ရွက်ရန်၊

(၆) လုပ်ငန်းမှထွက်ရှိလာသောပြာများကို သီးသန့် treatment ပြုလုပ်ကာ စွန့် ပစ်ရန်၊

(၇) မီးဘေးလုံခြုံရေးစီမံချက်၊လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများ သက်သာ ချောင်ချိရေးအစီအစဉ်များ၊ပတ်ဝန်းကျင်စိမ်းလန်းစိုပြေရေးအစီအစဉ်များ ဆောင်ရွက်ရန်နှင့် CSR ဆောင်ရွက်ရန်၊

(၈) သက်ဆိုင်ရာဒေသခံပြည်သူများထံမှဆန္ဒနှင့်သဘောထားများရယူဆောင် ရွက်ရန်၊

(၉) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ အခါအားလျော်စွာစစ်ဆေးမှုများ စစ်ဆေးခံနိုင်ရေး ဆောင်ရွက်ထားရှိရန်၊

(၁၀) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်၊ စံချိန်စံညွှန်းများနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(၁၁) ညစ်ညမ်းမှုများဖြစ်ပေါ်လာပါက ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေပုဒ်မ (၁၄) နှင့် (၁၅) တို့တွင် ဖော်ပြထားသည့် ပြဋ္ဌာန်းချက်များကို လိုက်နာဆောင်ရွက်ရန်၊

(၁၂) ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းလမ်း (Best Available Practices) များကို အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ဃ) **မွန်ပြည်နယ်စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန** က အောက်ပါအချက်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည် - **(နောက်ဆက်တွဲ-ဃ)**

(၁) စက်ရုံအဆောက်အဦသည် ပတ်ဝန်းကျင်ဘေးအန္တရာယ်ရှိနိုင်မည့် အခြေအနေမရှိစေရန်၊

(၂) မီးဘေးအန္တရာယ်ကင်းရှင်းရေးအတွက် သက်ဆိုင်ရာဌာနစိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊

(၃) စွန့်ပစ်ပစ္စည်းအမှိုက်ပစ္စည်းများအား စနစ်တကျ သိုလှောင်ထိန်းသိမ်းရန်နှင့် ပတ်ဝန်းကျင်ဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်းမရှိစေရန် အစီအမံများရေးဆွဲဆောင်ရွက်ရန်၊

(၄) ပြည်သူများ၏ ကျန်းမာရေး ဘေးအန္တရာယ်ထိခိုက်မှုမရှိစေရန် ပညာရှင်များ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်၊

(၅) စက်ရုံအတွင်း လေဝင်လေထွက်ကောင်းရန်နှင့်အမှုန်စုပ်ပန်ကာများ၊ အနံ့စုပ်စက်များလုံလောက်စွာတပ်ဆင်ဆောင်ရွက်ရန်၊

(၆) တည်ဆဲဥပဒေများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(င) **မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး** က အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး ကန့်ကွက်ရန် မရှိကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ- င)**

၁၃။ အဆိုပါလုပ်ငန်းနှင့်ပတ်သက်ပြီး အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည် -

(က) **Thiwa Company Limited (သီဝကုမ္ပဏီလီမိတက်)** ၏ ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့်ဆောင်ရွက်မည့် **စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း** သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ တားမြစ်/ကန့်သတ်ထားသည့် လုပ်ငန်းများတွင် မပါဝင်ခြင်း၊ အစိုးရပိုင်မြေ/အဆောက်အဦအား အသုံးပြုထားမှု မရှိခြင်း၊ သဘာဝပတ်ဝန်းကျင်နှင့် ပြည်သူလူထုအား ကြီးမားသောသက်ရောက်မှု ဖြစ်ပေါ်နိုင်သည့် လုပ်ငန်းမဟုတ်ခြင်း၊ ရင်းနှီးမြှုပ်နှံမှုပမာဏ ကျပ်သန်း ၆၀၀၀ အောက်တွင်ရှိခြင်းများ ကြောင့် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှု ကော်မတီမှ ဆုံးဖြတ်နိုင်ပြီး အတည်ပြုမိန့် ထုတ်ပေးနိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၃၇ အရ အတည်ပြုမိန့်ရရှိရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်လွှာတင်ပြလာခြင်းဖြစ်ပါသည်။

(ဂ) အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံ မှုကော်မရှင်အမိန့်ကြော်ငြာစာအမှတ် ၁၃/၂၀၁၇၊ အပိုဒ် (၁)(၃) (ISIC 351) အရ ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင်ပါဝင်ပါသည်။ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်မည့် မွန်ပြည်နယ်၊ ရေးမြို့နယ်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် အမိန့်ကြော်ငြာစာအမှတ် ၁၀/၂၀၁၇အရ ဇုန်(၂)တွင် ပါဝင်ပါသည်။ သို့ဖြစ်ရာ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၅ (က)(ဂ) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ် ခွင့်ပြုနိုင်သောလုပ်ငန်းဖြစ်ပါသည်။

(ဃ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ၇၇ (က) အရ လုပ်ငန်းတည်ဆောက်မှုကာလအတွင်းလုပ်ငန်းလိုအပ်ချက်အရ ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများ၊ တည်ဆောက်ရေးပစ္စည်းများနှင့် လုပ်ငန်းသုံးပစ္စည်းများအတွက် အကောက်ခွန်ကင်းလွတ်ခွင့်/ သက်သာခွင့်များ ရရှိခံစားနိုင်သည့် လုပ်ငန်း ဖြစ်ပါသည်။

(င) အတည်ပြုမိန့်ရရှိပါက ကုမ္ပဏီအနေဖြင့် သက်ဆိုင်ဌာနများ၏ လမ်းညွှန်ချက်များ၊ တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိဝန်ခံမှုပြုထားပါသည်။

(စ) ရေးမြို့နယ်၏ လျှပ်စစ်ဓါတ်အားလိုအပ်ချက်ကို တစ်ဘက်တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင်မည်ဖြစ်ပြီး နှစ်စဉ် အသားတင်အမြတ်ငွေ၏ ၂% ကို လူမှုရေးဆိုင်ရာတာဝန်ယူမှု (Corporate Social Responsibility – CSR) အဖြစ် သတ်မှတ် ဆောင်ရွက်မည်

မည်ဖြစ်ရာ ဒေသဖွံ့ဖြိုးတိုးတက်မှုအတွက် တစ်ဖက်တစ်လမ်းမှ ဆောင်ရွက်သွားစေနိုင်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ရာနှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် **Thiwa Company Limited (သီဝကုမ္ပဏီ လီမိတက်)** မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ဓမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်- ၁/၄၉၈+ ၄/၄၉၉ ရှိ ဧရိယာ(၁၀.၅၈)ဧက နှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲ အနောက်ကွင်း၊ မြေကွက်အမှတ်- ၁၃၁၇/ ၁၅၀၁+ ၁၃၁၈/၁၅၀၂ ရှိ ဧရိယာ (၅.၁၇) ဧက၊ စုစုပေါင်း မြေဧရိယာ (၁၅.၇၅)ဧကတွင် **ဓာနှံပစ်အမှိုက်မှလျှပ်စစ်ဓါတ်အားထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း** ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းအား **အတည်ပြုမိန့်** ထုတ်ပေးရန် သဘောတူ-မတူ။

အတွင်းရေးမှူး(ကိုယ်စား)
(စောလင်းအောင်၊ ဒုတိယညွှန်ကြားရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



လျှပ် စစ် ဓာတ် အား ဖြန့် ဖြူး ရေး လုပ် ငန်း
ပြည် နယ် လျှပ် စစ် အင် ဂျင် နီ ယာ ရုံး
မွန် ပြည် နယ်၊ မော် လ မြိုင် မြို့

စာအမှတ်၊ ၈၀၀၁ / ၄ အ - ၂ လ (မပ) / ၂၀၁၉။

ရက်စွဲ ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ( ၂ ) ရက်။

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ၉၀၁
ရရှိရက်စွဲ ၂-၁-၂၀၂၀
ရရှိအချိန် ၁၄ း ၃၀ နာရီ
လက်ခံသူလက်မှတ်

သို့

ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်၊ မော်လမြိုင်မြို့

အကြောင်းအရာ။ သဘောထားမှတ်ချက် ပြန်လည်တင်ပြခြင်းကိစ္စ။

ရည်ညွှန်းချက် ။ (၁) မွန်ပြည်နယ်၊ ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၄.၁၂.၂၀၁၉) ရက်စွဲပါ စာအမှတ်၊ မရက / ၄ / နငသ / ၂၀၁၉ (၀၄၀)

၁။ Thiwa Co., Ltd မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စုတွင် စွန့်ပြစ်အမှိုက်မှ လျှပ်စစ်ထုတ်လုပ်၍ (5) MW လျှပ်စစ်ဓာတ်အားပေးစက်ရုံ တည်ဆောက်မည့် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် အထက်ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ ၊ သို့ဖြစ်ပါ၍ ယခုတည်ဆောက်မည့် စွန့်ပြစ်အပူသုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံ စီမံကိန်းသည် စွန့်ပြစ်အမှိုက်မှ လျှပ်စစ်ဓာတ်အား ထုတ်လုပ်မည်ဖြစ်ပြီး၊ နိုင်ငံတော် ဓာတ်အားစနစ် မရောက်ရှိသေး၍ ပုဂ္ဂလိက မီးလင်းရေးအဖွဲ့အစည်းများ၊ ကုမ္ပဏီများဖြင့်သာ ဓာတ်အားဖြန့်ဖြူးပေးနေသော ရေးမြို့နယ်အတွင်း လျှပ်စစ်ဓာတ်အားဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ပေးခြင်းအား ကန့်ကွက်ရန် မရှိပါကြောင်းနှင့် မီးသုံးသူများ ဓာတ်အားပြည့်ဝစွာ ရရှိပြီး၊ ဓာတ်အားခများ သက်သာမည်ဆိုပါက ကူညီဆောင်ရွက်ပေးသွားမည် ဖြစ်ကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

၂/၁/၂၀၂၀

(ဝင်းဘို)
ပြည်နယ်လျှပ်စစ်အင်ဂျင်နီယာ

မိတ္တူကို

(၁) ဝန်ကြီး၊ လျှပ်စစ်၊ စွမ်းအင်နှင့် စက်မှုဝန်ကြီးဌာန၊ မွန်ပြည်နယ်။
(၂) ခရိုင် လျှပ်စစ်အင်ဂျင်နီယာ၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေး လုပ်ငန်း၊ မော်လမြိုင်ခရိုင်၊ မော်လမြိုင်မြို့။
(၃) ရုံးလက်ခံ။




ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
မွန် ပြည် နယ် - မော် လ မြိုင် မြို့
စာ အ မှတ်၊ ၀၀၁၁ / မ လ - ၂
ရက်စွဲ၊ ၂၀၂၀ ခုနှစ်၊ ဇန်နဝါရီလ ( ၂ )ရက်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ် ...... ၈၁၂ ......
ရရှိရက်စွဲ ...... ၂-၁-၂၀၂၀ ......
ရရှိအချိန် ...... ၁၆ း ၃၀ နာရီ ......
လက်ခံသူလက်မှတ် ......

သို့

အတွင်းရေးမှူး
မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မီးလောင်ပြင်လမ်း၊မန္တလေးရပ်ကွက်၊ မော်လမြိုင်မြို့

**အကြောင်းအရာ။ သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏(၂၄.၁၂.၂၀၁၉)ရက်စွဲပါစာအမှတ်၊ မရက/၄/နသေ/၂၀၁၉(၀၄၀)

၁။ Thiwa Co.,Ltd မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၁၉၇/က)ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်(၁/၄၉၈+၄/၄၉၉)ရှိ ဧရိယာ(၁၀.၅၈)ကေနှင့် ကွင်းအမှတ်(၁၁၉၅)ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်(၁၃၁၇/၁၅၀၁+၁၃၁၈/၁၅၀၂)ရှိ ဧရိယာ(၅.၁၇)ကေ၊ စုစုပေါင်း(၁၅.၇၅)ကေတွင် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းအပေါ် မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီမှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံ ညှိနှိုင်းလာပါသည်။

၂။ သို့ပါ၍ Thiwa Co.,Ltd မှ မွန်ပြည်နယ်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်(၁၁၉၇/က)ခမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်(၁/၄၉၈+၄/၄၉၉)ရှိ ဧရိယာ(၁၀.၅၈)ကေနှင့် ကွင်းအမှတ်(၁၁၉၅)ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်(၁၃၁၇/၁၅၀၁+၁၃၁၈/၁၅၀၂)ရှိ ဧရိယာ(၅.၁၇)ကေ၊ စုစုပေါင်း(၁၅.၇၅)ကေတွင် စွန့်ပစ်အမှိုက်မှလျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက်အတွက် ၂၀၁၂ ခုနှစ်/၂၀၁၈ ခုနှစ်၊ မြေလွတ်မြေလပ်နှင့်မြေရိုင်းများစီမံခန့်ခွဲရေး ဥပဒေ၊ နည်းဥပဒေများနှင့်အညီ လျှောက်ထားဆောင်ရွက်ဆဲဖြစ်ပြီး၊ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှု ကော်မတီ၏ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ညီညွတ်မှုရှိပါက ခွင့်ပြုနိုင်ပါရန် ထောက်ခံတင်ပြအပ်ပါသည်။

2/1/2020

( တင်ထူး )
ပြည်နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာနမှူး
မွန်ပြည်နယ်

မိတ္တူကို -

- ရုံးလက်ခံ/မျှောစာတွဲ









ညွှန် ကြား ရေး မှူး ရုံး
ပတ် ဝန်း ကျင် ထိန်းသိမ်း ရေးဦးစီးဌာန
မွန် ပြည် နယ် ၊ မော် လ မြိုင် မြို့
စာအမှတ်၊ ၅၁၂ /အီးအိုင်အေ / ၂၀၂၀
ရက်စွဲ၊၂၀၂၀ခုနှစ်၊ ဇန်နဝါရီလ၊ ၃၀ ရက်

သို့

ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ
မွန်ပြည်နယ်

မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီရုံး
(ဝင်စာမှတ်ပုံတင်)
အမှတ်စဉ်...........၁၀၅...........
ရရှိရက်စွဲ.....၁၀.၁.၂၀၂၀.........
ရရှိအချိန်.....၁၁:၄၅ မိနစ်.........
လက်ခံသူလက်မှတ်.....

အကြောင်းအရာ။ **သဘောထားမှတ်ချက်အကြောင်းပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မွန်ပြည်နယ်ရင်းနှီးမြှုပ်နှံမှုကော်မတီ၏ (၂၄.၁၂.၂၀၁၉) ရက်စွဲပါစာအမှတ်၊ မရက/၄/နသေ/၂၀၁၉(၁၄၀)

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Thiwa Co., Ltd မှ မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ ကော့လှိုင်ကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၁၉၇/က၊ ဓမင်းဆိပ်ကွင်း၊ မြေကွက်အမှတ်-၁/၄၉၈+၄/၄၉၉ရှိ မြေဧရိယာ(၁၀.၅၈)ကေနှင့် ကွင်းအမှတ်-၁၁၉၅၊ ဘဲအဖျဲအနောက်ကွင်း၊ မြေကွက်အမှတ်-၁၃၁၇/၁၅၀၁+၁၃၁၈/၁၅၀၂ရှိမြေဧရိယာ(၅.၁၇)ကေ၊ စုစုပေါင်းမြေဧရိယာ(၁၅.၇၅)ကေပေါ်တွင် ရာနှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် မွန်ပြည်နယ် ရင်းနှီးမြှုပ်နှံမှုကော်မတီသို့ လျှောက်ထားတင်ပြလာခြင်းအပေါ် ကော်မတီမှအဆိုပါလုပ်ငန်းနှင့်ပတ်သက်၍ ပတ်ဝန်းကျင်ဆိုင်ရာသဘောထားမှတ်ချက်ပေးနိုင်ပါရန်မွန်ပြည်နယ်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနသို့ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ Thiwa Co., Ltd မှ အဆိုပြုတင်ပြလာသော စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) စက်ရုံတွင် လိုအပ်သော အဆောက်အဦများအဖြစ် Factory (100'×150'×30') (၁)လုံး၊ Office (60'×30'×11') (၁)လုံး၊ Staff Housing (100'×40'×11') (၁)လုံး၊ Gust House (90'×30'×12') (၁)လုံး၊ Store (100'×30'×12') (၁)လုံး စုစုပေါင်း(၅)လုံး တည်ဆောက်ထားကြောင်း၊

(ခ) ရင်းနှီးမြှုပ်နှံမှုပမာဏမှာ ကျပ်သန်း(၅၈၀၀)ဖြစ်ပြီး လိုအပ်သောကုန်ကြမ်းများအတွက် ရေးမြို့နယ်အတွင်းရှိ သစ်ပါးလွှာစက်ရုံများမှ စွန့်ပစ်သစ်ခေါက်များ၊ သစ်ပါးလွှာများ၊ သစ်တိုသစ်စများကို စာချုပ်များချုပ်ဆို၍ ဝယ်ယူမည်ဖြစ်ကြောင်း၊ အခြားသောစွန့်ပစ်အမှိုက်အမျိုးမျိုးမှလည်း လျှပ်စစ်ထုတ်လုပ်မည်ဟု ရည်ရွယ်ကြောင်းနှင့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်းမှာ နှစ်(၃၀)ဖြစ်ကြောင်း၊

(ဂ) လုပ်ငန်းမှ လျှပ်စစ်ဓာတ်အား (5) MW ထုတ်လုပ်ဖြန့်ဖြူးသွားမည်ဖြစ်ပြီး စက်ရုံနှင့် သက်ဆိုင်သောကိရိယာများ ရောက်ရှိချိန်တွင် တပ်ဆင်၍ စမ်းသပ်လည်ပတ်မည်ဖြစ် ကာစိတ်တိုင်းကျဖြစ်လျှင် (၂၄)နာရီပြည့် စတင်လည်ပတ်မည်ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းလုပ်ဆောင်၍ ရရှိလာမည့် နှစ်စဉ်အမြတ်ငွေမှ(၂%)ကို CSR ရန်ပုံငွေအဖြစ် ထားရှိသုံးစွဲသွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းလုပ်ဆောင်ခြင်းအတွက် မွန်ပြည်နယ်မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများစီမံ ခန့်ခွဲရေးကော်မတီ၊ ကော့လိုင်ကျေးရွာအုပ်စုအုပ်ချုပ်ရေးမှူး၊ စည်ပင်သာယာရေး အဖွဲ့၊ သစ်တောဦးစီးဌာန၊ စီမံကိန်းဦးစီးဌာန၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန၊ ဆည် မြောင်းဦးစီးဌာန၊ စိုက်ပျိုးရေးဦးစီးဌာန၊ လျှပ်စစ်ဓာတ်အားဖြန့်ဖြူးရေးလုပ်ငန်း တို့မှ သဘောထားမှတ်ချက်/ထောက်ခံချက်များ ရရှိထားကြောင်း၊

(စ) လျှပ်စစ်ဓာတ်အားကို တစ်ယူနစ်လျှင် (၂၅၀)ကျပ်ဖြင့် ထုတ်လုပ်ဖြန့်ဖြူးရောင်းချသွား မည်ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းလုပ်ဆောင်ခြင်းအတွက် တစ်နှစ်လစာငွေ ကျပ်(၄၈)သိန်းအထက် ရရှိသော ဝန်ထမ်းများအတွက်ဝင်ငွေခွန်ကိုသတ်မှတ်ထားသောနှုန်းထားများအတိုင်း ပေးဆောင် စေရန် တာဝန်ယူမည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ သက်ဆိုင်ရာဌာနများ၏ လမ်းညွှန် ချက်များ၊ တည်ဆဲဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာ၍လုပ်ကိုင် ဆောင် ရွက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အနိမ့်ဆုံးလုပ်ခလစာအတိုင်း တွက်ချက်ပြီး အခြေခံဝန်ထမ်းများအား လုပ်ခလစာ သတ်မှတ်ပေးသွားမည်ဖြစ်ကြောင်း ကတိဝန်ခံ ချက်၊ CSR ဆောင်ရွက်မည့်အစီအစဉ်၊ မီးဘေးလုံခြုံရေးစီမံချက်၊ ဝန်ထမ်းများသက်သာ ချောင်ချိရေးစီမံချက် စသည်တို့ကို ပူးတွဲတင်ပြထားကြောင်း။

၃။ Thiwa Co., Ltd မှအဆိုပြုတင်ပြလာသော စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်း လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သုံးသပ်ရပါသည်-

(က) မီးပြင်းဖို(Incinerators)များ လောင်ကျွမ်းလည်ပတ်သည့်ဖြစ်စဉ်တွင် မီးခိုးငွေ့များ ထွက်ရှိပြီး အဆိုပါ မီးခိုးငွေ့နှင့် အခြားသောထုတ်လွှတ်အခိုးအငွေ့များတွင် Metal၊ Acid Gas၊ Carcinogen Dioxins၊ Nitrogen Oxide၊ Particulate၊ Mercury၊ Leadနှင့် အခြားသောအဆိပ်အတောက်ပစ္စည်း/ ညစ်ညမ်းပစ္စည်းများပါဝင်နိုင်ပြီး ယင်းပစ္စည်း များသည် စွန့်ပစ်ရေနှင့် ပြာများထဲတွင်လည်း တည်ရှိနေနိုင်ကာ ပတ်ဝန်းကျင်ကို အန္တရာယ်ဖြစ်စေနိုင်ကြောင်း၊

(ခ) လောင်ကျွမ်းလည်ပတ်သည့်ဖြစ်စဉ်မှ ကျန်ရှိမည့် ပြာ(ash)များသည် ပမာဏ အားဖြင့်နည်းပါးသော်လည်း ယင်းတို့တွင် Poisons နှင့် Heavy Metalများပါရှိပြီး သီးသန့် Treatment ပြုလုပ်ကာ စွန့်ပစ်ဖျက်ဆီးရန် လိုအပ်သဖြင့် သေချာမှန်ကန်စွာ

စွန့်ပစ်ဖျက်ဆီးခြင်းမရှိပါက ရေရှည်တွင် လူနှင့်ပတ်ဝန်းကျင်ကို အန္တရာယ်ဖြစ်စေနိုင်ကြောင်း၊

(ဂ) စွန့်ပစ်ပစ္စည်းများလောင်ကျွမ်းခြင်းမှ ထွက်ရှိလာမည့် အဆိပ်အတောက်ဖြစ်စေသည့် အခိုးအငွေ့များ၊စက်ရုံမှထွက်ရှိသည့်ညစ်ညမ်းပစ္စည်းနှင့်အခြားသောအဆိပ်အတောက်ဖြစ်စေသည့်ထုတ်လွှတ်မှုများကြောင့် စက်ရုံလုပ်သားများနှင့် အနီးဝန်းကျင်နေထိုင်သူများအနေဖြင့် အဆုတ်ရောဂါများ၊ နှလုံးခုန်မမှန်ခြင်း၊ နှလုံးရောဂါဖြစ်ခြင်း၊ ကင်ဆာဖြစ်ခြင်းနှင့် အရွယ်မတိုင်မီ သေဆုံးခြင်းစသည့် ကျန်းမာရေးဆိုင်ရာ ပြဿနာများဖြစ်ပေါ်စေနိုင်ကြောင်း၊

(ဃ) အမှိုက်များကို မီးပြင်းဖို ( Incinerators )ထဲသို့ ထည့်၍ မီးရှို့ရာတွင် ခွဲခြားခြင်းမရှိဘဲရောချ၍ထည့်လိုက်ပါက ပလက်စတစ်ရာဘာများသည် အဆိုးရွားဆုံးဒုက္ခပေးနိုင်ပြီး ထွက်ရှိမည့်မီးခိုးငွေ့များသည်လည်းလေထုကိုညစ်ညမ်းစေကာလူများ၏ကျန်းမာရေးကိုထိခိုက်နိုင်ကြောင်း၊

(င) စက်ရုံလည်ပတ်ခြင်းမှထွက်ရှိမည့် အဆိပ်အတောက်ဖြစ်စေသည့်အရာများနှင့် ထုတ်လွှတ်အခိုးအငွေ့များကိုFilterများဖြင့်စစ်ယူသန့်စင်ရန်လိုအပ်ပြီး ထိုကဲ့သို့ဆောင်ရွက်မည်ဆိုပါကလည်းကုန်ကျစရိတ်ကြီးမားနိုင်ကာ နောက်ဆုံးတွင်ယင်းစစ်ယူထားသည့်အရာများကပင် အန္တရာယ်ရှိစွန့်ပစ်ပစ္စည်းများအဖြစ် ကျန်ရှိမြဲကျန်ရှိနိုင်ကြောင်း၊

(စ) စက်ရုံလည်ပတ်ခြင်းကြောင့် ဖြစ်ပေါ်လာမည့် ပတ်ဝန်းကျင်(လေထု/ ရေထု/ မြေထု) ညစ်ညမ်းမှုများနှင့် ကျန်းမာရေးဆိုင်ရာပြဿနာများကို ထိန်းချုပ်လျှော့ချရန် လိုအပ်ပြီးထိုကဲ့သို့ဆောင်ရွက်ပါကလည်း စက်ကုန်ကျစရိတ်၊ ကုန်ကြမ်းဝယ်ယူစရိတ်အပြင် ညစ်ညမ်းမှု ထိန်းချုပ်သည့် စက်ပစ္စည်း ကိရိယာများကြောင့်လည်း ကုန်ကျစရိတ်ပိုမိုများပြားနိုင်ကြောင်း၊

(ဆ) စွန့်ပစ်ပစ္စည်းအသုံးပြု၍ စွမ်းအင်ထုတ်လုပ်သည့်ဖြစ်စဉ်များမှ ကာဗွန်ဒိုင်အောက်ဆိုဒ်ဓာတ်ငွေ့ထွက်ရှိမှုသည်ကျောက်မီးသွေး၊ သဘာဝဓာတ်ငွေ့နှင့် ရေနံအသုံးပြု စွမ်းအင်ထုတ်လုပ်ခြင်းများမှ ထွက်ရှိမှုထက် ပိုမိုများပြားသဖြင့် ရာသီဥတုပြောင်းလဲမှုကို ပိုမိုဖြစ်စေနိုင်ကြောင်း၊

(ဇ) စွန့်ပစ်အမှိုက်များကို သေချာစွာ စုပုံသိုလှောင်ထားခြင်းမရှိပါက ပတ်ဝန်းကျင်လေထု/ရေထု/မြေထုကိုထိခိုက်နိုင်ကြောင်း၊ ကြာရှည်စွာစုပုံထားရှိပါကလည်း မီသိန်းဓါတ်ငွေ့များထွက်ရှိပြီး ပတ်ဝန်းကျင်ကိုထိခိုက်ညစ်ညမ်းစေနိုင်ကြောင်း။

၄။ Thiwa Co., Ltd မှအဆိုပြုတင်ပြလာသော စွန့်ပစ်အမှိုက်မှ လျှပ်စစ်ဓာတ်အားထုတ်လုပ်ခြင်းလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားပါသည်-

